(ဂ) အငှားချထားခံရသူတို့၏ တမင်ပေါ့လျော့မှုကြောင့် မိမိဆောက်လုပ်ငှားရမ်းထားသော အဆောက်အဦး ချို့ယွင်းပျက်စီးမှုတို့ကို မျှတသောပြင်ဆင်ပေးနိုင်မှုရရှိခွင့်၊ လျော်ကြေးတောင်းခံခွင့်များရှိပါသည်။

<u>အငှားချထားခြင်းခံရသူ၏တာဝန်များ။</u>

၅။ အငှားချထားခြင်းခံရသူသည်–

(က) လျှပ်စစ်ဓါတ်အား၊ ရေ၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အမှိုက်ရှင်းလင်းရေးကဲ့သို့သော ငှားရမ်းကာလအတွက် ကျပ်ဖြင့်ဖြစ်စေ၊ ပေးချေရန်ကိစ္စများပါဝင်သည့် ကန့်သတ် မထားသော အငှားချထားခံသူတို့ သုံးစွဲသော မြေနှင့် အဆောက်အဦးအတွက် အများနှင့်သက်ဆိုင်သည့် ဝန်ဆောင်စရိတ်များအားလုံးကိုပေးချေရန်။

(ခ) မိမိကိုယ်တိုင်(သို့မဟုတ်)မိမိကိုယ်စားလှယ် (သို့မဟုတ်) အလုပ်သမားတို့က အငှားချ ထားသူ၏စာဖြင့် သဘောတူညီမှုမရှိပဲ အခြားသူအားမလွှဲရန် ထပ်ဆင့်မငှားရန်။

(ဂ) ခြံကာခြင်း၊ အဆောက်အဦး အတွင်းအပြင် ဆေးသုတ်ခြင်းများအပါအဝင် ပုံမှန်ပြုပြင် ထိန်းသိမ်းခြင်းများကိုတာဝန်ယူရန်။

(ဃ) အကယ်၍ မိမိ၏ကိုယ်စားလှယ်များ(သို့မဟုတ်) မိမိ၏အလုပ်သမားများ၏ ပြုလုပ်မှု (သို့မဟုတ်) မိမိ၏အလုပ်သမားများ၏ပြုလုပ်မှု(သို့မဟုတ်) ပေါ့လျော့မှုကြောင့် ပေါ် ပေါက်လာသော အဆောက်အဦး၊မြေ (သို့မဟုတ်) တပ်ဆင်ထားသော ပစ္စည်းများကို လိုအပ်သလိုပြင်ဆင်ရန်။

(င) ဤငှားရမ်းစာချုပ်ကုန်ဆုံးလျှင် ကုန်ဆုံးခြင်း အဆိုပါမြေနှင့် အဆောက်အဦးများကို အငှားချထားသူအားအခြားအနေအထားကောင်းသောပိုင်ဆိုင်မှုအပြန်အလှန် ပြောင်းလွှဲပေးရန်တာဝန်များရှိပါသည်။

၆။ အငှားချထားခြင်းခံရသူသည်–

(က) ဤအငှားစာချုပ်အရ အငှားစာချုပ်ရပ်ဆိုင်းသော အခါတွင် ကနဦးအသေတပ်ဆင်မွမ်းမံမှုများပြုလုပ်ခဲ့သောအရာများမှအပ၊ မိမိပိုင်ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို ရယူခွင့်နှင့် ရွှေ့ပြောင်းနိုင်ခွင့်။

(ခ) အငှားချထားသူ(သို့မဟုတ်) ကိုယ်စားဆောင်ရွက်ခွင့်အာဏာအရ၊ ငှားရမ်းခကောက်ခံ ခွင့်ရှိသူမည်သူမဆိုအား ငှားရမ်းခကို ပေးချေခွင့်။

(ဂ) ပျက်ကွက်မှုအတွက်အခြားခံစားခွင့်များမပါရှိဘဲ အငှားချထားသူက ဤစာချုပ်အရ တာဝန်သတ်မှတ်ချက်များကို ဖြည့်စည်းပေးရန်၊ ပျက်ကွက်သည့်အခါတွင် ဤစာချုပ်ကို ရပ်စဲခွင့် (သို့မဟုတ်) ယင်း၏ဆန္ဒအလျောက် အငှားချထားသူတာဝန်ယူရမည့် စည်းကမ်းသတ်မှတ်ချက်များကို အငှားချထားသူ၏ ကုန်ကျစရိတ်ဖြင့် သတ်မှတ်ရန် လိုအပ်သည်ဟု ယူဆချက်ဖြင့် အရေးယူဆောင်ရွက်ခွင့်များပါရှိပါသည်။

<u>အခြားသဘောတူညီချက်များ</u>

၇။ အငှားချထားခံရသူသည် ဤငှားရမ်းထားသည့် မြေနှင့် အဆောက်အဦးတွင် ပြည်ထောင်စုမြန်မာနိုင်ငံတည်ဆဲဥပဒေနှင့် ညီညွတ်သောလုပ်ရှားမှုများနှင့် လုပ်ဆောင်ချက်များအားလုံးကို လုပ်ဆောင်ပါမည်ဟု အာမခံရမည်။

၈။ ဤငှားရမ်းစာချုပ်တွင်ပါရှိသောအချက်များ၊ စည်းကမ်းများအရ ပုံမှန်အချိန်တွင် အငှားချထားသူနှင့် အငှားချထားခံရသူတို့၏ သဘောတူညီချက်အရ ဤစာချုပ်ကို (၁) နှစ်သက်တမ်း ကုန်ဆုံးပြီးတိုင်း ငှားရမ်းခ (၁၀%) ထက်မပိုသော တိုးမြှင့်မှုဖြင့် တိုးမြှင့်မည်ဖြစ်ပါသည်။

၉။ အငှားချထားခံရသူတို့သို့မဟုတ် ၎င်းတို့၏ကိုယ်စားလှယ်များ (သို့မဟုတ်) ၎င်းတို့၏ အလုပ်သမားများသည် အငှားချထားသောမြေနှင့် အဆောက်အဦးတွင် ပြုလုပ်ချက်များ (သို့မဟုတ်) ဆောင်ရွက်ချက်များ အရတာဝန်ရှိသည်။

၁၀။ အဆောက်အဦး (သို့မဟုတ်) အဆောက်အဦးအတွင်းပစ္စည်းများကို အငှားချထားသူ (သို့မဟုတ်) အငှားချထားခံရသူက ဥပဒေနှင့်အညီ အာမခံထားရှိနိုင်သည်။

၁၁။ ယခုငှားရမ်းထားသည့်မြေပေါ်တွင် မည်သည့်အဆောက်အဦး (သို့မဟုတ်) ဆောက်လုပ်မှုတို့ကို အငှားချထားသူ၏ ခွင့်ပြုချက်မရှိပဲ အငှားချထားခံရသူက မပြုလုပ်ရပါ။

၁၂။ ထပ်တစ်ရာအထည်ချုပ်ကုမ္ပဏီလီမိတက်သည် အကြောင်းကြောင်းများကြောင့် အလုပ်မလုပ်ကိုင်နိုင်ပါက ယင်း၏ အမွေစားအမွေခံဆက်ခံသူက ဆက်လက်လုပ်ကိုင် နိုင်ပါသည်။

၁၃။ တနှစ်မပြည့်မီ (၃) လအလိုတွင် နောက်တနှစ်အတွက် ထပ်မံစာချုပ်ချုပ်ဆိုရပါမည်။ အကယ်၍ (၃) လအတွင်း ပေးရန်ရှိလာသော ငှားရမ်းခကို အကြေအလည် မပေးဆောင်နိုင်တော့ပါက စက်ရုံကို ဆက်လက်လုပ်ကိုင်ရန် ရပ်ဆိုင်းမည်ဟု သတ်မှတ်သည်။

၁၄။ ဤငှားရမ်းစာချုပ်သည် မြန်မာနိုင်ငံ ဥပဒေများအတိုင်း တည်တံ့ရမည်။

<u>မလွန်ဆန်နိုင်သောဖြစ်ရပ်များ။</u>

၁၅။ စာချုပ်ဝင်တဖက်သည် မိမိ၏ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် အခြားစာချုပ်ဝင်တစ်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုသူသည် ထိုနစ်နာမှုအတွက် တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ အစိုးရတဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်မှု၊ စစ်ဖြစ်မှု၊ ပိတ်ဆို့တားဆီးမှု၊ သူပုန်ထမှု၊ အဓိကရုဏ်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လေမုန်တိုင်း ကြရောက်မှုစသော စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိနှင့် ဝီရိယရှိစေကာမူ မလွန်ဆန်နိုင် မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်သည်။

၁၆။ စာချုပ်ဝင်နှစ်ဦးသည် ထိုကဲ့သို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များများနှင့် ကြုံတွေ့ရလျှင် ကြုံတွေ့ရသူက အခြားစာချုပ်ဝင်တဖက်အား ထိုအဖြစ်အပျက်ကို ဖြစ်ပွားပြီး (၇) ရက် အတွင်း ဖြစ်ပွားမှုအခြေအနေကို အသေးစိတ်အကြောင်းကြားရန်နှင့် ထိုကာလအတွင်း ဖြစ်ပေါ်မှုအခြေအနေ၊ မိမိကဆုံးဖြတ်ဆောင်ရွက်မှု အခြေအနေနှင့် အရေးယူဆောင်ရွက်ခဲ့မှု အခြေအနေများကို အခြားစာချုပ်ဝင်တဖက်၏ သဘောတူညီမှုအရ ထိုမလွန်ဆန်နိုင်သည့် အခြေအနေကာလအတွင်း ဆိုင်းငံ့စေရမည်။

၁၇။ သို့ရာတွင် ထိုဆိုင်းငံ့ကာလသည် အကျိုးအကြောင်းဆက်နွယ်မှုအရ လိုအပ်သည်ထက်ပိုမို၍ မကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း မလွန်ဆန်နိုင်သောဖြစ်ရပ်ကိုခံရသူ အမြန်ဆုံးဖြစ်နိုင် သမျှဖယ်ရှားပစ်ရမည်။

၁၈။ မည်သည့်အခါတွင်မဆို အဆိုပါငှားရမ်းထားသော မြေအဆောက်အဦးများ (သို့မဟုတ်) အဓိကကျသော ယင်း၏အစိတ်အပိုင်းကို မလွန်ဆန်နိုင်သောဖြစ်ရပ်များ (သို့မဟုတ်) အခြားမတားဆီးနိုင်သည့် ဘေးအန္တရာယ်တို့ကြောင့် လုံးလုံးပျက်စီးပါက (သို့မဟုတ်) ငှားရမ်းရန် မသင့်တော်လောက်အောင် လုပ်ငန်းဆောင်ရွက်မှု ပျက်စီးယိုယွင်းမှုအခြေအနေရှိပါက ဤစာချုပ်သည် ရပ်ဆိုင်းမည်။ (သို့မဟုတ်)

နှစ်ပေါင်း(၁၀) အတွင်းဖြစ်ပါက အငှားချထား ခံရသူသည် လိုအပ်သော ပြင်ဆင်မှုများဖြင့် လုပ်ငန်းကို ဆက်လက်လုပ်ကိုင်ခွင့်ရှိသည်။

## စာချုပ်ပြန်လည်ညှိနိုင်းခြင်း။

၁၉။ ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများပေါ်ပေါက်လာခြင်းကြောင့်၊ မြေငှားစာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြေငှားစာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်ညှိနိုင်းပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ခွင့်ပြုချက်ကိုရယူပြီးနောက် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤမြေငှားစာချုပ်၏ အစိတ်အပိုင်းတရပ်အဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

## ခုံသမာဓိဖြင့်ဆုံးဖြတ်ခြင်း (အနုညာတနည်းဖြင့်စီရင်ခြင်း)

၂၀။ အငှားချထားခြင်းခံရသူနှင့် အငှားချထားသူတို့အကြား စာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက် လာပါက ရှေးဦးစွာနှစ်ဦးနှစ်ဖက်အကြားကောင်းစွာမျှတသောပြေလည်မှု ရရှိရေးအတွက် ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင်ဆောင်ရွက်ရမည်။

၂၁။ အကယ်၍အေးချမ်းစွာဖြေရှင်းမရနိုင်သော အငြင်းပွားမှုများပေါ်ပေါက်ပါက ထိုအငြင်းပွားမှုကို အနုညာတ နည်းအားဖြင့်ဖြေရှင်းရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းသည် မြန်မာနိုင်ငံ အနုညာတဥပဒေနှင့် နောက်ပိုင်းပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်

## ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း။

၂၂။ အငှားချထားခံရသူသည်၊ ဆောက်လုပ်ထားသော အထည်ချုပ်စက်ရုံ ပတ်ဝန်းကျင်တဝိုက်အတွင်း ရေ၊ လေ၊ မြေ ညစ်ညမ်းမှုပျက်ယွင်းမှုများ မရှိစေရန် လိုအပ်သောကြိုတင်ပြင်ဆင်မှုများကို ၎င်း၏စရိတ်ဖြင့် ကျခံဆောင်ရွက်ရမည်။ ထိုအပြင် အငှားချထားခြင်းခံရသူသည် မီးဘေးအန္တရာယ် အစရှိသော အန္တရာယ်များကို ကာကွယ်ရန်အတွက် လိုအပ်သော ပြင်ဆင်မှုများကို ၎င်းစရိတ်ဖြင့်ကျခံဆောင်ရွက်ရမည်။ ထိုအပြင် ၎င်းဖြစ်ရပ်များဖြစ်ပေါ်လာခဲ့သည်ရှိ၍ ပေးလျော်ရခဲ့သည်ရှိသော် မြေငှါးချထားခြင်းခံရသူ၏ တာဝန်သာလျှင်ဖြစ်ပြီး ၎င်း၏စရိတ်ဖြင့်သာ ကျခံဖြေရှင်း ရမည်။

## သယံဇာတပစ္စည်းတွေ့ရှိခြင်း။

၂၃။ အငှားချထားခြင်းခံရသူသည် ငှားရမ်းမြေပေါ်တွင် တူးဖော်ခြင်းပြုလုပ်နေစဉ် အရေးကြီးသောမည်သည့် တွေ့ရှိချက်မဆို အငှားချထားသူထံ ချက်ချင်းအကြောင်းကြားရမည်၊ မြေတူးစဉ်တွေ့ရှိရသော အနုပညာ ရှေးဟောင်းပစ္စည်းများ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာအရေးပါသော အရာဝတ္ထုများ၊ သဘာဝသယံ ဇာတများ၊ ဓါတ်သတ္တုအရင်း အမြစ်များ၊ ရတနာများ၊ ရတနာသိုက်များ၊ ရေနံနှင့်ဓါတ်ငွေ့များအားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရနှင့် သက်ဆိုင်စေရမည်ဖြစ်ပြီး၊ တွေ့ရှိပါက အငှားချထားသူမှတဆင့် သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်း များသို့ အကြောင်းကြားရမည်။ ထိုပစ္စည်းများကို ယင်းသက်ဆိုင်ရာ အဖွဲ့အစည်းများက လွတ်လပ်စွာတူးဖော်ခွင့်ရှိ စေရမည်။

## အကြောင်းကြားစာပေးပို့ရန်လိပ်စာ

၂၄။ အကြောင်းကြားစာပေးပို့ရာတွင် မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့ဖြင့် မှတ်ပုံတင်စာပို့၊ လေကြောင်းစာပို့၊ အမြန်ချောပို့၊ တဲလက်စ်၊ ဖက်စ်တို့ကို အောက်ပါလိပ်စာများအတိုင်းပေးပို့ရမည်။ အကယ်၍လိပ်စာ အသစ်ပြောင်းပါက ထိုပြောင်းသူကချက်ချင်းအကြောင်းကြားရမည်။

(က) ထပ်တစ်ရာအထည်ချုပ်ကုမ္ပဏီလီမိတက်
လိပ်စာ- ၁၃၄/၄၂၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်။

(ခ) ဦးစစ်ရှိန်
လိပ်စာ- ၂၁၉၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်။

<u>လွှမ်းမိုးသည့်ဥပဒေသများ</u>

၂၅။ ဤစာချုပ်ပါပြဋ္ဌာန်းချက်များသည် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းတို့နှင့် ညီညွတ်မှုမရှိပါက ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များက လွှမ်းမိုးစေရမည်။

၂၆။ ဤစာချုပ်ပါပြဋ္ဌာန်းချက်များသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှပြဋ္ဌာန်းသော တည်ဆဲစည်းမျဉ်း၊ ဥပဒေ သော်လည်းကောင်း၊ နောက်နောင်ပြဋ္ဌာန်းသော စည်းမျဉ်း၊ ဥပဒေသော်လည်းကောင်း တစ်ရပ်ရပ်နှင့် ညီညွတ်မှုမရှိ ပါက စည်းမျဉ်း၊ ဥပဒေပါပြဋ္ဌာန်းချက်များက လွှမ်းမိုးစေရမည်။

၂၇။ ဤစာချုပ်သည် နှစ်ဦးနှစ်ဖက်နားလည်သဘောပေါက်ကြသဖြင့် ယင်းအကြောင်းအရာအပေါ် ယခင်က သဘောတူညီချက်များ၊ နားလည်ချက်များအားလုံးကို လွှမ်းမိုးစေရမည်။

အထက်ဖော်ပြပါ အချက်အလက်အားလုံးကို သိမြင်သဘောပေါက်သည့်အလျောက် အငှားချ ထားသူနှင့် အငှားချထားခံရသူတို့သည် ၎င်းတို့၏အမည်များနှင့် လက်မှတ်များကို အထက်ပါ ပထမဦးစွာ ဖော်ပြထား သော ရက်စွဲတွင် ရန်ကုန်မြို့တော်၌ အောက်ပါအတိုင်း ဖော်ပြရေးထိုး ကြပါသည်။

| အငှားချထားခံရသူ | | အငှားချထားသူ | |
|---|---|---|---|
| အမည် | Marigold Garment Co., Ltd. | အမည် | ဦးစစ်ရှိန် |
| မှတ်ပုံတင် | 322/2001-2002 | မှတ်ပုံတင် | MMA-039819 |
| လိပ်စာ | ၁၃၄/၄၂၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်။ | လိပ်စာ | ၂၁၉၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်။ |

<u>အသိသက်သေများ</u>

| | | | |
|---|---|---|---|
| ၁။ | ---------- | ၂။ | ---------- |
| အမည် | မြင့်မြင့်ဝေး | အမည် | တင်တင်အေး |
| မှတ်ပုံတင် | KMYT-016321 | မှတ်ပုံတင် | ၁၄/မမန(နိုင်)၀၅၁၅၅၇ |
| လိပ်စာ | ၁၃၄/၄၂၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်။ | လိပ်စာ | ၂၁၉ မဟာဗန္ဓုလလမ်း ဗိုလ်တထောင် |

အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE LABEL
ငါးဆယ်ကျပ်
FIFTY KYATS

အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE LABEL
ငါးဆယ်ကျပ်
FIFTY KYATS

# မြေငှားစာချုပ်

၁၉ [illegible] ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် [illegible] အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် [illegible] မြို့နေ၊ ဦး [illegible] ၏၊ သား/သမီး ဖြစ်သော

ဦး/ဒေါ် [illegible] အမျိုးသားမှတ်ပုံတင်အမှတ် [illegible] (နောက်တွင် "အငှား စာချုပ်ရသူ"

ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ [illegible] ခုနှစ်၊ [illegible] လဆန်း/လပြည့်ကျော် [illegible] ရက်နေ့၊ ၁၉ [illegible] ခုနှစ်၊

( [illegible] လ [illegible] ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်-ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက-နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ကျောက်သတ္တုတွင်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်မိုင်း (Quarries) စသည်ကိုသည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေမျက်နှာပြင်ကိုနှောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့ တည်ဆဲဥပဒေ စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့် အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ် ချုပ်ဆိုသည့် [illegible] နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် [illegible] ခုနှစ် [illegible] လ [illegible] ရက်နေ့၌ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် [illegible] ပြား [illegible] ( [illegible] ) တိတိကို ဇန်နဝါရီလ ၁-ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁-ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁-ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁-ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁-ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁-ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁-ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယတစ်ဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃-တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE LABEL
ငါးဆယ်ကျပ်
FIFTY KYATS

အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE LABEL
ငါးဆယ်ကျပ်
FIFTY KYATS

၁။ အငှားစာချုပ်ရှသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့်နှုန်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံ သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်းအခြားအတွင်း စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် အိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့် ရေပိုက်များ ချ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အ ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်ရာ ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောက်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်း အတွင်းအဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ ပြုမည့်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါ တည်ရှိသည့် အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်း စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွဲ ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၄ ခုနှစ် အတွင်းတွင် ဖြစ်စေ ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အ မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ ကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီး ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲတွဲကပ်ထား ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ယင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နေရပ်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ်တြိပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက် ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်ကို ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ဖျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ် ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့်အချိန်တွင် ယင်းမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်ပေါ် သည့်တွင် ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်စီးဆုံးရှုံးခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်ထား သောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန်မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၂၄ ) ခုနှစ်၊ [ဇွန်] လ၊ ( ၂၄ ) ရက်နေ့မှစ၍ ပထမဆယ်ငါးနှစ် ကုန်ဆုံး သည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနှုန်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုမီ အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသော စည်းကြပ်သည့်သုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်ဘက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ ကိုက်ညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ဦး [illegible] သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ဦးအုံးကျော် ___ ညွှန်ကြားရေးမှူးချုပ်

(တံဆိပ်)

ဒုတိယညွှန်ကြားရေးမှူးချုပ် ဗိုလ်မှူးကြီး တင်ထွန်း ___ ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ဦးတင်ဝင်း
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

___ ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ဦးကျော်ဝင်း

အငှားစာချုပ်ရသူ ဦး [illegible] က
လက်မှတ်ရေးထိုးသည်။

___ အငှားစာချုပ်ရသူ

**အသိသက်သေ။**

၁။ ဦးတင်ဝင်း၊ [illegible]

၂။ [illegible]

လက်ထောက်ညွှန်ကြားရေးမှူး
မြေနှင့်အခွန်ဌာန

အထက်တွင် ရည်ညွှန်းထားသည့် ဇယား

ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် [illegible]
မြေတိုင်းရပ်ကွက်အမှတ် ၄၂
ရန်ကုန်မြို့ [illegible] မြို့နယ်။
အတွင်းရှိ ___ တန်းစား၊ မြေကွက်အမှတ် ၁၃၄
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၁၉၀/၁၈၀ ပေ၊ အနံ ၁၁၃/၁၂၇ ပေခန့်ရှိသော အလားအလာ
အရှေ့လားသော် လမ်း
အနောက်လားသော် မြေကွက်အမှတ် - ၁၃၃(က) ၁၃၃(ခ) ၁၃၃(ဂ)
တောင်လားသော် မြေကွက်အမှတ် - ၁၃၅(ခ)
မြောက်လားသော် လမ်း
အတွင်းရှိ မြေအားလုံး ဧရိယာ ၁.၃၈၀ ဧက၊ (စတုရန်းပေ ၆၀၁၁၅ )

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ...၃၂၂... /၂၀၀၁ - ၂၀၀၂

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ...ဆပ်တစ်ရွပန်း အထည်ချုပ်...

...ကုမ္ပဏီ လီမိတက်... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ...၂၀၀၁... ခုနှစ် ...ဇူလိုင်... လ ...၂... ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

စက်မှု/ထုတ်လုပ်မှု/ဆောက်လုပ်ရေး
INDUSTRIAL/PRODUCTION/CONSTRUCTION

( ကျော်ဇော )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

❁ ❁ ❁

## THE GOVERNMENT OF THE UNION OF MYANMAR
## MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. ...322... of 2001 - 2002

I here by certify that ...MARIGOLD GARMENT COMPANY LIMITED... is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this ...SECOND... day of ...JULY, TWO THOUSAND AND ONE...

စက်ရုံအလုပ်ရုံတည်ရှိရာအရပ်သည်၊
စက်မှုလက်မှုဇုံတွင်ဖြစ်စေရမည် (သို့မဟုတ်)
လူနေရပ်ကွက်နှင့်ကင်းလွတ်ရာအရပ်၌
ဖြစ်စေရမည်။

( KYAW ZAW )
Registrar of Joint Stock Companies
Companies Registration Office

ဝင်း/၆၇၂၀၀၁*

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the of 199

on the 12th of July 19 2001 of the * Marigold Garment Co., Ltd.

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 15 Shares (Including Subscribers' Shares)

" " " " .....

Nominal amount of the shares so allotted ..... Ks. 15,000 (Fully Paid)

" " " " .....

Amount paid or due and payable on each such share .... Ks. 1,000/-

" " " "

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ....

Amount to be treated as paid on each such share ....

The consideration for which such share have been allotted is as folllows:-

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

[illegible] for filing by: Mr. Serge Pun

Names, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| U Thein Wai @ Mr. Serge Pun<br>12 MaGaTa (Naing) 084053 | FMI Centre, Level 10, 380, Bogyoke Aung San Street, Pabedan Township, Yangon, Myanmar. | Merchant | | 5 |
| U Soe Win<br>E/RGN-018727 | FMI Centre, Level 10, 380, Bogyoke Aung San Street, Pabedan Township, Yangon, Myanmar. | Merchant | | 5 |
| U Soe Myint<br>PBDN-001300 | FMI Centre, Level 10, 380, Bogyoke Aung San Street, Pabedan Township, Yangon, Myanmar. | Merchant | | 5 |
| | | | TOTAL | 15 |

Signature

U Theim Wai @ Mr. Serge Pun
Chairman
Marigold Garment Co., Ltd.

MARIGOLD GARMENT CO., LTD.

Date

12 JUL 2001

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : Marigold Garment Co.,Ltd. 6 Presented by : Mr.Serge Pun

43

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Theim Wai @ Mr.Serge Pun | Myanmar 12/MaGaTa(N) 084053 | FMI Centre,Level 10 & 11,380,Bogyoke Aung San Road, Pabedan Tsp., Yangon. | Merchant | Chairman |
| 2. U Soe Win | Myanmar E/RGN-018727 | FMI Centre,Level 10& 11, 380, Bogyoke Aung San Road, Pabedan Tsp., Yangon. | Merchant | Managing Director |
| 3. U Soe Myint | Myanmar PBDN-001600 | FMI Centre, Level 10 & 11, 380, Bogyoke Aung San Road, Pabedan Tsp., Yangon. | Merchant | Director |
| 4. Daw Myint Myint Aye | Myanmar 12/ Ba Ha Na (N) 047443 | No.132/42, Mahawgani St., Shwe Pyi Tha Tsp., Yangon. | Merchant | Appointed as office Manager w.e.f 17,10,01 |

MARIGOLD GARMENT CO., LTD.

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..............................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this 17.10.2001

Signature ..............................

Designation Chairman

Marigold Garment Co., Ltd.

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၉၉/၂၀၀၂ (၁၁၃၃-၀)
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဇွန်လ ၁၂ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ထပ်တရာပန်းအထည်ချုပ် ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း ဆောင် ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ထပ်တရာပန်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Marigold Garment Co., Ltd.)မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၀-၅-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၃၀-၅-၂၀၀၂) နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၀/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြု ချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၆၁,၆၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း များကို ပြည်တွင်းမှ ဝယ်ယူအသုံးပြုခဲ့ပြီး၊ နောင်တွင် ပြည်ပမှ စက်ပစ္စည်းများ ဝယ်ယူတင်သွင်း ရန်ရှိပါက လုပ်ငန်းမှရရှိသော တရားဝင် နိုင်ငံခြားငွေဖြင့် ဝယ်ယူတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးစစ်ရှိန် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော အမှတ် ၁၃၄/၄၂၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်တိုင်း ရှိမြေ (၀,၅၃)ဧက(၂၁၄၄,၈၃ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်းအသုံးပြုပါသည်။

လျှို့ဝှက်

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန်ပယ်ထည် (Reject) (၁) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင် ထောင်ပေါင်း) |
|---|---|---|
| ၁။ | Shirts | ၆၀ |
| ၂။ | Blouse | ၆၀ |
| ၃။ | Jackets | ၁၂ |

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၆)နှစ်နှင့် (၂)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၉.၃၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် ကျပ် ၀.၅၂ သန်း
အမေရိကန်ဒေါ်လာ ၀.၀၇ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁.၀၉ သန်း

၇။ လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၄၈၀)ဦး ခန့်ထားဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ CMP ချုပ်ခ ရငွေများနှင့် ပတ်သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၉။ ဤလုပ်ငန်းမှာ မူလက ကော်မရှင်ခွင့်ပြုမိန့်ဖြင့် မဟုတ်ဘဲ၊ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခံစား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ တစ်ဆင့် စိစစ်ပြီး တင်ပြလာပါ၍ (၃၀–၅–၂၀၀၂)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၀/၂၀၀၂) အစည်းအဝေးမှ မူအားဖြင့် သဘောတူပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင် ခွင့်ပြုသည့်နေ့မှ စ၍ (၃)နှစ် ခံစားခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပါသည်။

၁၀။ ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့်

သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) ထပ်တရာပန်း အထည်ချုပ် ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုသည့် နေ့မှစ၍ ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ- ၁၂၉၉/ ၂၀၀၂ (၅၅-၈)။
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ မေလ ၂၁ ရက်။

## ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ထပ်တရာပန်းအထည်ချုပ် ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း ဆောင် ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ထပ်တရာပန်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Marigold Garment Co., Ltd.)မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၀-၅-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကိုနောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၆၁.၆၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၁.၀၀)သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ် (၁၆.၆၀)သန်း၊ အဆောက်အဦ တန်ဖိုးကျပ် (၄၀.၅၀)သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းတန်ဖိုး ကျပ် (၃.၅၀)သန်း ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူအသုံးပြုခဲ့ပြီး၊ နောင်တွင် ပြည်ပမှ စက်ပစ္စည်းများ ဝယ်ယူတင်သွင်းရန်ရှိပါက လုပ်ငန်းမှရရှိသော တရားဝင် နိုင်ငံခြားငွေဖြင့် ဝယ်ယူတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးစစ်ရှိန် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော အမှတ် ၁၃၄/၄၂၊ မဟော်ဂနီလမ်း၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်တိုင်း ရှိမြေ (၀.၅၃)ဧက(၂၁၄၄.၈၃ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်းအသုံးပြုပါသည်။

လျှို့ဝှက်

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန်ပယ်ထည် (Reject) (၁) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေး နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင် ထောင်ပေါင်း) | CMP ချုပ်ခနှုန်း (US$/Dz) | ပြည်တွင်းရောင်း ဈေးနှုန်း (ကျပ်/ဒါဇင်) |
|---|---|---|---|---|
| ၁။ | Shirts | ၆၀ | ၄.၅ | ၇၈၀၀ |
| ၂။ | Blouse | ၆၀ | ၄.၅ | ၇၈၀၀ |
| ၃။ | Jackets | ၁၂ | ၉ | ၁၃၀၀၀ |

၅။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၀.၉၂ | ၃.၈၅ | ၁၄.၇၇ |
| (ခ) | အသုံးစရိတ် | ၆.၇၂ | ၁.၅၂ | ၁၁.၂၄ |
| (ဂ) | အသားတင်အမြတ် | ၁.၂၀ | ၂.၃၃ | ၃.၅၃ |

၆။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၆)နှစ်နှင့် (၂)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၉.၃၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၀.၅၂ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၇ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၁.၀၉ သန်း |

၈။ လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၄၈၀)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုများ မဖြစ်ပွားစေရန် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ကြောင်း၊ နိုင်ငံတော်မှအခါအားလျော်စွာ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်

ချက် များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းအပ်နှံသူများထံမှ အပ်နှံသည့် ချုပ်ထည်များအား စာချုပ် စည်းကမ်းနှင့်အညီ ပြည်ပသို့ ချုပ်ထည်များအား ပြန်လည်ပေးပို့မည် ဖြစ်ကြောင်းနှင့် CMP ချုပ်ခရငွေများကိုမြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်ရှိ ငွေစာရင်းသို့ ပေးသွင်းပြီး၊ ယင်းသို့ ပေးသွင်းထားသည့် နိုင်ငံခြားငွေများကို တရားဝင်ခွင့်ပြုထားသည့် ငွေလဲလှယ်ရေးဌာနများတွင် ကျပ်ငွေဖြင့် လဲလှယ်ပြီး၊ လုပ်အားခများ ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ ဤလုပ်ငန်းမှာ မူလက ကော်မရှင်ခွင့်ပြုမိန့်ဖြင့် မဟုတ်ဘဲ၊ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက် ရှိပါသည်။ ယခုအခါ CMP လက်ခစား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်၍ တင်ပြသော လုပ်ငန်းများအနက်မှ စည်းကမ်းသတ်မှတ်ချက်နှင့် ညီညွတ်သောလုပ်ငန်းဖြစ်၍ (၇-၃-၂၀၀၂)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၅/၂၀၀၂)အစည်းအဝေးမှ CMP စနစ်သို့ ပြောင်းလဲခွင့်ပြုရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရန် ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေလုပ်ထုံး လုပ်နည်း နှင့်အညီ တင်ပြလာခြင်း ဖြစ်ပါသည်။ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ၏ ထောက်ခံတင်ပြချက်အရလုပ်ငန်း၏စီးပွားဖြစ်ထုတ်လုပ်ခြင်းကို (၁၅-၃-၂၀၀၀)နေ့မှ စတင်ခဲ့ကြောင်း သိရှိရပါသည်။

၁၁။ ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ထပ်တရာပန်း အထည်ချုပ် ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရာတွင် စီးပွားဖြစ် ထုတ်လုပ်ခြင်း

စတင်သည့်နေ့ကို CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ ထောက်ခံတင်ပြထားသော (၁၅-၃-၂၀၀၀)နေ့မှ စ၍ ခံစားခွင့်ပြုရန် သို့မဟုတ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှ စ၍ ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။</u>
ကုန်သွယ်မှု မူဝါဒကောင်စီ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

<u>ကုန်သွယ်မှု မူဝါဒကောင်စီ ။</u>

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ထပ်တာရာပန်း အထည်ချုပ် ကုမ္ပဏီ လီမိတက်<br>(Marigold Garment Co., Ltd.) | ၁။ ဦးသိမ်းဝေ<br>(ဥက္ကဋ္ဌ) | အမှတ် (၁)၊ ကွမ်းခြံလမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးစိုးဝင်း<br>(မန်နေဂျင်းဒါရိုက်တာ) | အမှတ်(၁၇၁)၊ အနော်ရထာလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးစိုးမြင့်<br>(ဒါရိုက်တာ) | အမှတ်-(၆၁)၊ ရွှေဘုံသာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |

## လျှို့ဝှက်

[illegible]

( မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ )

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ထပ်တရာပန်း အထည်ချုပ်ကုမ္ပဏီလီမိတက် ( Marigold Garment Co., Ltd. ) ( ၂၂-၇-၂၀၀၁ နေ့တွင်မှတ်ပုံတင်ပြီး ) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးသိမ်းဝေ[illegible] |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | CMP စနစ်ဖြင့်နိုင်ငံတကာအဆင့်မီအထည် အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၄။ | တည်နေရာ | အမှတ်( ၁၃၄/၄၂ )မဟော်ဂနီလမ်း ၊ ရွှေပြည်သာစက်မှုဇုန် ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်း ၊ |
| ၅။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၆၁.၆၀ သန်း |
| | - ငွေပမာဏ | ကျပ် ၁.၀၀ သန်း |
| | - စက်ပစ္စည်း ကိရိယာ | ကျပ် ၁၆.၆၀ သန်း |
| | - အဆောက်အဦ | ကျပ် ၄၀.၅၀ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်း | ကျပ် ၃.၅၀ သန်း |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၀.၅၃ဧက( ၂၁၄၄.၈၃၀တုရန်း မီတာ) |
| | - မြေပိုင်ဆိုင်မှု | မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးစစ်ရှိန်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြေနှင့်ယင်း မြေပေါ်ရှိအဆောက်အဦ ကိုငှားရမ်း အသုံးပြုခြင်း ဖြစ်ပါသည်။ |
| | - မြေအမျိုးအစား | စက်မှုမြေ |
| ၇။ | ထုတ်လုပ်မှု( ပုံမှန်နှစ် ) | ဒါဇင်(ထောင်ပေါင်း) |
| | - Shirts | ၆၀ |
| | - Blouse | ၆၀ |
| | - Jackets | ၁၂ |
| | | ၁၃၂ (တစ်ဦး လျှင်တစ်နှစ်ပျမ်း မျှ ( ၂၉၃ ) ဒါဇင်နှုန်းရှိပါသည်။ ) |

| | | |
|---|---|---|
| ၈။ ရောင်းချမည့်စံနစ် | | |
| - CMP စနစ်အရ | ၉၉ % | |
| + ပြည်တွင်းရောင်း | ၁ % | |
| ၉။ ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | CMP စနစ်အရ ( US$ # Doz | ပြည်တွင်းရောင်း ( ကျပ် / ဒါဇင် |
| - Shirts | ၄.၅ | ၇၀၀၀ |
| - Blouse | ၄.၅ | ၇၀၀၀ |
| - Jackets | ၉ | ၁၃၀၀၀ |
| ၁၀။ ဝင်ငွေ (ပုံမှန်နှစ်) | | |
| - နိုင်ငံခြားငွေဖြင့် | US$ ၀.၆၄ သန်း | |
| - ကျပ်ငွေဖြင့် | ကျပ် ၁၀.၉၂ သန်း | |
| ၁၁။ အသားတင်အမြတ် (ပုံမှန်နှစ်) | | |
| - နိုင်ငံခြားငွေဖြင့် | US$ ၀.၃၉ သန်း | |
| - ကျပ်ငွေဖြင့် | ကျပ် ၁.၂၀ သန်း | |
| ၁၂။ အရင်းကြေကာလ | (၆)နှစ်(၂)လ | |
| ၁၃။ အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း ( IRR ) | (၉.၃၆) ရာခိုင်နှုန်း | |
| ၁၄။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | | |
| - ဝင်ငွေခွန် (နိုင်ငံခြားငွေဖြင့်) | US$ ၀.၀၇ သန်း | |
| - (ကျပ်ငွေဖြင့်) | ကျပ် ၀.၅၂ သန်း | |
| - ကုန်သွယ်လုပ်ငန်းခွန် (ပြည်တွင်းရောင်းရငွေပေါ်၁၀ %) | ကျပ် ၁.၀၉ သန်း | |
| ၁၅။ ဝန်ထမ်းအင်အား (ပြည်တွင်း) | ၄၀၀ ဦး | |

| | | |
|---|---|---|
| ၁၆ | အခြား | - ယခုတင်ပြပါစက်ပစ္စည်းများကိုပြည်တွင်းမှ ဝယ်ယူအသုံးပြုခဲ့ပြီး နောက်ပြည်ပမှစက်ပစ္စည်းများ ဝယ်ယူတင်သွင်းရန်ရှိပါကလုပ်ငန်းမှရရှိသောတရားဝင်နိုင်ငံခြားငွေဖြင့်ဝယ်ယူတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- စက်ပစ္စည်းစာရင်း၊ ကုန်ကြမ်းစာရင်းနှင့်ထုတ်လုပ်မှုများစံနှုန်းများစာရင်းကို ပူးတွဲတင်ပြထားပါသည်။<br>- ယခုအဆိုပြုလုပ်ငန်းမှာ CMP လက်ခစားလုပ်ငန်းများစီစစ်ရေးကော်မတီမှ ကော်မရှင်ခွင့်ပြုမိန့်နှင့်မဟုတ်ဘဲဆောင်ရွက်လျက်ရှိသည့် CMPအထည်ချုပ်လုပ်ငန်းများအနက် စိစစ်တင်ပြလာသည့်လုပ်ငန်းများဖြစ်ပါသည်။အဆိုပါလုပ်ငန်းများကိုကုန်သွယ်မှုမူဝါဒကော်မတီ၏ (၅/၂၀၀၂)အစည်းအဝေးမှ ကော်မရှင်ခွင့်ပြုမိန့်ထုတ်ပေးရန်ဆုံးဖြတ်ခဲ့သဖြင့်ကုမ္ပဏီမှ အဆိုပြုချက်တင်ပြလာသည်ကိုဆက်လက်တင်ပြခြင်းဖြစ်ပါသည်။<br>- ၎င်းလုပ်ငန်းမှစီးပွားဖြစ်စတင်ထုတ်လုပ်မှုကို ၁၅-၃-၂၀၀၀ နေ့တွင်စတင်ခဲ့ကြောင်းသိရှိရပါသည်။<br>- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများလျှင်ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်လိုအပ်သောအစီအမံများကြိုတင်ကာကွယ်မှုများပြုလုပ်ထားမည်ဖြစ်ကြောင်း မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်၍လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ နိုင်ငံတော်မှ |

အခါအားလျော်စွာ သတ်မှတ်ပြဌာန်းမည့်စည်းကမ်း သတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ လုပ်ငန်းအပ်နှံသူများထံမှအပ်နှံသည့်ချုပ်ထည်များအား စာချုပ်စည်းကမ်းနှင့် အညီပြည်ပသို့ချုပ်ထည်များအား ပြန်လည်ပေးပို့မည်ဖြစ်ကြောင်း၊ CMP လုပ်ငန်းဆောင်ရွက်မှု အတွက်နိုင်ငံခြားငွေဖြင့်ရရှိသောအခကြေးငွေများကို MFTB နှင့် MICB တို့ရှိကုမ္ပဏီ၏ ငွေစာရင်းသို့မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း နှင့်ယင်းသို့ပေးသွင်းထားရှိသည့် နိုင်ငံခြားငွေများကိုနိုင်ငံတော်မှသတ်မှတ်ခွင့် ပြုထားသည့်ငွေလဲလှယ်ရေးဌာန ( Maney Changer Counter ) တွင်လဲလှယ်ပြီး မိမိလုပ်ငန်းအတွက်အလုပ်သမားများ၏လုပ်အားခများ ပေးဆောင်ရမည်ကိုသိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

- ခွင့်ပြုမိန့်ထုတ်ပေးပြီး အထည်ချုပ်လုပ်ငန်း ပေါင်း ( ၁၅၀ ) ခုရှိပြီး ဖြစ်ပါသည် ယခုအဆိုပြု လုပ်ငန်းအပါအဝင်တင်ပြထားသောအထည်ချုပ် လုပ်ငန်း ( ၁၄ ) ခုရှိပါသည်။

- ပူးတွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင် ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစား ခွင့်ပြုပါရန် လျှောက်ထားလာပါသည်။



* ကျော် ၇၅၂၀၀၂။

လျှို့ဝှက်

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းမှ ပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀ %) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့် အခါစဉ်းစား ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့် တောင်းခံခြင်းကိုအကျုံးဝင်ခြင်း မရှိဟု သုံးသပ်ရပါသည်။
- ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှရရှိမည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုတို နှင့်မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

လျှို့ဝှက်

- ဥပဒေပုဒ်မ ၁၃(ဈ) အရကနဦး ရင်းနှီး မြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ(၃) နှစ် အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင်အကောက်ခွန်နှင့်အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ည) အရ ထုတ်လုပ်သည့် ပစ္စည်းများ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်း ခွန်ကင်းလွတ်ခွင့်နှင့် စပ်လျဉ်း၍ C M P စနစ်ဖြင့်ထုတ်လုပ်သည့်ပစ္စည်းများအား ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ပြုသင့် ပါသည်။